

ပုံစံ (မနသ-၂)

စာအမှတ် ၁၄၅၁.၁

ရက်စွဲ ၂၅.၅.၂၀၁၇

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၂၄၉/၂၀၁၇ ။ ၂၀၁၇ ခုနှစ် ၊ မေလ ၂၅ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးစိုင်းအုန်းမြင့်

(ခ) အဘအမည် ဦးမိုင်ဆွမ်း

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/မဆတ(နိုင်) ၀၁၂၉၀၈

(ဃ) နေရပ်လိပ်စာ ဟ-၁/၇၉၊ ဟိုမွန်ရပ်ကွက်၊ မူဆယ်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား B.O.T စနစ်ဖြင့် (၂၀) မဂ္ဂါဝပ် နမ့်ပေါ်ရေအား လျှပ်စစ်စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ် ခရိုင်၊ မူဆယ်မြို့နယ်၊ မန့်မိုင်-စယ်လန့်ကျေးရွာ အုပ်စုရှိ မြေဧရိယာ ၁၇၉.၀၀ ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၄၈,၃၇၈.၄၁၄ သန်း (အမေရိကန်ဒေါ်လာ ၁၄.၃၀၈ သန်း အပါအဝင် စုစုပေါင်း ကျပ်လေးသောင်း ရှစ်ထောင် သုံးရာ ခုနစ်ဆယ့် ရှစ်သန်းနှင့် လေးသိန်း တစ်သောင်း လေးထောင်ခန့်)

(ဈ) တည်ဆောက်မှုကာလ ၃၆ လ

25.5.17

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၃၆ /၂၀၁၇ (မနသ)

၂၀၁၇ ခုနှစ် မေလ ၂၅ ရက်

၁။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်)မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ မန့်မိုင်-စယ်လန့်ကျေးရွာအုပ်စုရှိ မြေ ၁၇၉.၀၀ ဧကတွင် B.O.T စနစ်ဖြင့် (၂၀) မဂ္ဂါဝပ် နမ့်ပေါ် ရေအား လျှပ်စစ် စက်ရုံတည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုတင်ပြခြင်းအား ၂၀၁၇ ခုနှစ် ဧပြီလ ၂၈ ရက် နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ (၇/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ "ခွင့်ပြုကြောင်း" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် (၂၀) မဂ္ဂါဝပ် နမ့်ပေါ်ရေအား လျှပ်စစ်စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၂၄၉/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆) အရ သတ်မှတ်ထားသော ကာလအတွင်း တင်ပြခဲ့သဖြင့် ဤ ခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်-

(က) ဥပဒေပုဒ်မ ၂၀(က) အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက် ထားရမည်။

(ဃ) ဥပဒေပုဒ်မ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်း သုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက် များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်း ကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား

ပြည်တွင်းအခွန် အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့်ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထား ရှိရမည်။

၆။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်) သည် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနနှင့် လုပ်ငန်းပိုင်းဆိုင်ရာများကို အသေးစိတ် ညှိနှိုင်းဆောင်ရွက်ရမည်ဖြစ်ပြီး လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာနမှ ထုတ်ပြန်သော ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်ဖြစ်ပါသည်။

၇။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်) သည် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန (ယခင် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန) လျှပ်စစ်စွမ်းအား စီမံရေးဦးစီးဌာနသို့ မြေအသုံးချမှုပရီမီယံကြေးအနေဖြင့် ဤပဋိညာဉ်စာချုပ် နှစ်ဖက် လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ ငါးဆယ်တိတိ) ကို လည်းကောင်း၊ တည်ဆောက်ရေးကာလပြီးနောက် "လျှပ်စစ် ဓာတ်အား" စီးပွားဖြစ် စတင် ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ ငါးဆယ် တိတိ) ကို လည်းကောင်း ပေးအပ်ရမည်။

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်)နှင့် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းတို့ နမ့်ပေါ်ရေအားလျှပ်စစ်ဓာတ်အားပေးစက်ရုံ လျှပ်စစ်ဓာတ်အားဝယ်ယူရေး သဘောတူစာချုပ် လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၉။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်) သည် "လျှပ်စစ်ဓာတ်အား" ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်/ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူးရောင်းချရမည်ဖြစ်သည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၁။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့ အင်အား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး နှင့် စာရင်း ဇယား စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၃။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေး

ထိခိုက်မှု မရှိ စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေး တို့ အတွက် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment-ESIA) ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနတို့သို့ ပေးပို့ အစီ ရင်ခံရမည်။

၁၄။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ် စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်း သိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှုအခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီ ရင်ခံရမည်။

၁၅။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်)သည် ကနဦး လုပ်ငန်းဆောင်ရွက်မှုအစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ် ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင် ရွက်သည့်နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၇။ GREAT HOR KHAM PUBLIC COMPANY LIMITED (ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၈။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသည့် လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂ (င) အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ မရက-၅(လ)/မ-၀၁၂ /၂၀၁၇(၂၄၁-ခ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် မေလ ၂၅ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး၊ တောင်ကြီးမြို့

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီလီမိတက်